ရက်စွဲ။ ၂၀-၇-၂၀၁၈

**ယုဇနကုမ္ပဏီလီမိတက် မှ တင်ပြသည့် အဆိုပြုလွှာနှင့် စပ်လျဉ်း၍ လုပ်ငန်း ဆောင်ရွက်မှု မှတ်တမ်း**

| စဉ် | ဆောင်ရွက်သည့်အကြောင်းအရာ | ဆောင်ရွက်သည့် ရက်စွဲ | အကြောင်းပြန်ကြားသည့် ရက်စွဲ/ ကုမ္ပဏီမှတင်ပြသည့် ရက်စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | စုံစမ်းမေးမြန်းခြင်း လျှောက်ထားလွှာတင်ပြလာခြင်း | | | မရှိပါ။ |
| ၂ | စုံစမ်းမေးမြန်းခြင်း လျှောက်ထားလွှာအပေါ် အကြောင်းပြန်ကြားခြင်း | | | မရှိပါ။ |
| ၃ | အဆိုပြုချက်တင်ပြလာခြင်း | | ၂၁-၆-၂၀၁၈ | |
| ၄ | လုပ်ငန်းလိုအပ်ချက်အရ သက်ဆိုင်ရာဝန်ကြီးဌာနများသို့ သဘောထား တောင်းခံခြင်း<br>- ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန (One Stop Service)<br>- ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေး ဝန်ကြီးဌာန | <br><br>၂၁-၆-၂၀၁၈<br><br>၄-၇-၂၀၁၈ | <br><br>၃-၇-၂၀၁၈<br><br>၁၇-၇-၂၀၁၈ | |
| ၅ | အဆိုပြုချက်အပေါ်ပြင်ဆင်တင်ပြရမည့် အချက်များ အကြောင်းကြားခြင်း | ၁၁-၇-၂၀၁၈ | ၂၃-၇-၂၀၁၈ | PAT ဆုံးဖြတ်ချက် အကြောင်းကြားပါသည်။ |
| ၆ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်းအဝေးသို့ တင်ပြခြင်း | ၁၇/၂၀၁၈<br>(၂-၇-၂၀၁၈) | | |
| ၇ | ကုမ္ပဏီမှ လိုအပ်ချက်များ ပြန်လည်ပေးပို့ခြင်း | ၂၃-၇-၂၀၁၈ | | |
| ၈ | အဆိုပြုချက်အား ကော်မရှင် အစည်းအဝေးသို့ တင်ပြခြင်း | ၁၀/၂၀၁၈<br>(၂၆-၇-၂၀၁၈) | | |

| စဉ် | ဆောင်ရွက်သည့်အကြောင်းအရာ | ဆောင်ရွက်သည့် ရက်စွဲ | အကြောင်းပြန်ကြားသည့် ရက်စွဲ/ ကုမ္ပဏီမှတင်ပြသည့် ရက်စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၉ | ခွင့်ပြုမိန့်ထုတ်ပေးခြင်း | | | |
| | စုစုပေါင်းကြာမြင့်ရက် | ( ၃၅ ) ရက် | | |

ရက်စွဲ။ ၂၀-၇-၂၀၁၈

# အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆွေးနွေးချက်၊ ဆုံးဖြတ်ချက်အပေါ် ဆောင်ရွက်ပြီးစီးမှု

ကုမ္ပဏီအမည် ယုဇနကုမ္ပဏီလီမိတက်

လုပ်ငန်းအမျိုးအစား စားအုန်းဆီ နှင့် ဆက်စပ်ပစ္စည်းများ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း

PATအကြိမ်/နေ့စွဲ ၁၇/၂၀၁၈ (၂-၇-၂၀၁၈)

| စဉ် | အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက်အပေါ် ပြင်ဆင်ရန် အချက်များ | ဆောင်ရွက်ပြီးစီးမှု ပြီး (✓) မပြီး (x) | မှတ်ချက် |
|---|---|---|---|
| ၁ | Shareholder စာရင်းတွင် ပြင်ဆင်တင်ပြရန်။ | ✓ | |
| ၂ | ပြည်ပမှတင်သွင်းမည့် စက်ပစ္စည်းစာရင်းအား အမျိုးအစားအလိုက် ခွဲခြားတင်ပြပေးရန်။ | ✓ | |
| ၃ | မြေပိုင်ရှင်မှ ကုမ္ပဏီသို့ထည့်ဝင်မှုအား BOD ဆုံးဖြတ်ချက်နှင့်တကွ ရှင်းလင်းတင်ပြပေးရန်။ | ✓ | |

အကြောင်းအရာ။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် ယုဇနကုမ္ပဏီလီမိတက်မှ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ စားအုန်းဆီနှင့် ဆက်စပ်ပစ္စည်း ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်း ကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - ယုဇနကုမ္ပဏီလီမိတက် |
| | ကမကထပြုသူ | - ဦးဌေးမြင့် |
| | အဖွဲ့အစည်းပုံသဏ္ဌာန် | - မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု |
| | လုပ်ငန်းအမျိုးအစား | - စားအုန်းဆီ နှင့်ဆက်စပ်ပစ္စည်း ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်း လုပ်ငန်း |
| ၂။ | တည်နေရာ | -မြေကွက်အမှတ်(၄၁၄)၊မြေတိုင်းရပ်ကွက်အမှတ်-၂၅၊ ဆိပ်ကမ်းသာလမ်း၊ရွှေလင်ပန်းစက်မှုဇုန်၊လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| ၃။ | မြေပိုင်ရှင် | - ဦးဌေးမြင့် |
| | မြေအကျယ်အဝန်း | - မြေဧရိယာ (၄၂.၅၁၇) ဧကအနက်မှ (၁၃.၅၅)ဧက (၅၄၈၃၄.၉၅၃ စတုရန်းမီတာ) |
| ၄။ | တည်ဆောက်မှုကာလ | - ၂ နှစ် |
| ၅။ | စုစုပေါင်းမတည်ငွေရင်း ပမာဏ | - ကျပ် ၃၇,၈၀၀ သန်း(အမေရိကန်ဒေါ်လာ ၂၅.၆၆၉ သန်း အပါအဝင်) |

| ထည့်ဝင်သည့်အမျိုးအစား | ကျပ်/သန်း | USD (Million) | ကျပ်/သန်း |
|---|---|---|---|
| ငွေသား | ၈၂၈.၇၅ | ၁.၀၀၀ | ၂၁၇၈.၇၅ |
| စက်ပစ္စည်းစာရင်း(ပြည်ပ) | | ၁၆.၅၁၉ | ၂၂၃၀၀.၆၅ |
| ဓာတ်ခွဲခန်းသုံးပစ္စည်း(ပြည်ပ) | | ၀.၃၀၀ | ၄၀၅.၀၀ |
| ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်းများ | ၈၃.၁၀ | | ၈၃.၁၀ |
| ဆောက်လုပ်ရေးလုပ်ငန်းသုံးပစ္စည်း တန်ဖိုး (ပြည်ပ) | | ၂.၅၀၀ | ၃၃၇၅.၀၀ |
| အဆောက်အဦဆောက် လုပ်မှုကုန်ကျစရိတ် | ၄၇၅.၀၀ | | ၄၇၅.၀၀ |
| မော်တော်ကား(ပြည်ပ) | | ၀.၅၅၀ | ၇၄၂.၅၀ |
| ဆိပ်ခံတံတား | ၁၇၆၀.၀၀ | | ၁၇၆၀.၀၀ |
| ကနဦးကုန်ကြမ်း(ပြည်ပ) | | ၄.၈၀၀ | ၆၄၈၀.၀၀ |
| စုစုပေါင်း | ၃၁၄၆.၈၅ | ၂၅.၆၆၉ | ၃၇၈၀၀.၀၀ |

၆။ ဝန်ထမ်းအင်အား - ၆၃၈ ဦး

ပြည်တွင်း - ၆၃၁ ဦး (ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၅၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၁,၀၀၀,၀၀၀ ဖြစ်ပါသည်။)

ပြည်ပ - ၇ ဦး (ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၂,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၃,၀၀၀ ဖြစ်ပါသည်။)

၇။ ရောင်းချမည့်စနစ် - ပြည်တွင်း ၁၀၀ %

၈။ ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်း

| စဉ် | ပစ္စည်း အမျိုးအစား | အရေအတွက် (MT) | ရောင်းဈေးနှုန်း (ကျပ်/ MT) |
|---|---|---|---|
| ၁။ | **Cooking Oil** | | |
| | -In Drum 180 Kg | ၇၈,၀၀၀ | ၁,၀၅၀,၀၀၀ |
| | -Jerry Can 16 Kg | ၄၆,၈၀၀ | ၁,၂၅၀,၀၀၀ |
| | -Plastic Bottle 5 Kg | ၁၅,၆၀၀ | ၁,၃၅၀,၀၀၀ |
| | -Plastic Bottle 2 Kg | ၇,၈၀၀ | ၁,၄၀၀,၀၀၀ |
| | - Plastic Bottle 1 Kg | ၇,၈၀၀ | ၁,၄၅၀,၀၀၀ |
| ၂။ | **By Product** | | |
| | -PFAD (Palm Fatty Acid Distillate) | ၇,၂၀၀ | ၇၅၀,၀၀၀ |
| | -RBD Palm Stearin (Refined Bleached Deo - dorized Palm Stearin) | ၃၁,၂၀၀ | ၈၀၀,၀၀၀ |
| | -Shortening | ၄,၈၀၀ | ၁,၂၀၀,၀၀၀ |
| | -Margarine | ၂,၄၀၀ | ၁,၄၅၀,၀၀၀ |
| | -Ghee | ၂,၄၀၀ | ၁,၂၀၀,၀၀၀ |
| | -Butter Substitute | ၂,၄၀၀ | ၁,၄၅၀,၀၀၀ |
| | -Bakery Fat | ၂,၄၀၀ | ၁,၂၀၀,၀၀၀ |

| | | |
|---|---|---|
| ၉။ | အခြားတင်ပြချက် | - အဆိုပြုလုပ်ငန်းလုပ်ကိုင်မည့်မြေသည် ယုဇနကုမ္ပဏီ လီမိတက်မှ ဥက္ကဋ္ဌ ဦးဌေးမြင့်အမည်ဖြင့် ရရှိထားသော မြေကွက်ဖြစ်ပြီး ဦးဌေးမြင့်အနေဖြင့် ကုမ္ပဏီသို့ လုပ်ကိုင်ရန် ခွင့်ပြုထားကြောင်း ဒါရိုက်တာ အဖွဲ့အစည်းအဝေးမှတ်တမ်း ကို တင်ပြထားပါသည်။<br>- ငွေရေးကြေးရေးအထောက်အထားအဖြစ် ဦးဌေးမြင့် အမည်ဖြင့် ကမ္ဘောဇဘဏ်တွင် ၁၅-၆-၂၀၁၈ ရက်စွဲဖြင့် ကျပ် ၁၅,၃၂၅,၅၇၂,၁၇၀.၁၁ ရှိကြောင်း တင်ပြထား ပါသည်။<br>- ယုဇနကုမ္ပဏီလီမိတက်သည် လျှိုင်မြစ်ကမ်းဆေး၌ လုပ်ငန်းတွင် အသုံးပြုမည့် သင်္ဘောများ ရပ်နားရန်အတွက် (၄၀၈) ပေအရှည်ရှိ ဆိပ်ခံတံတား တည်ဆောက်မည်ဖြစ်ကြောင်း၊ ဆိပ်ခံတံတား ကုန်ကျစရိတ် ကျပ် ၁၇၆၀.၀၀ သန်းအား ရင်းနှီးမြှုပ်နှံမှုတွင် ထည့်သွင်းဖော်ပြ ထားပါသည်။ |
| ၁၀။ | စိစစ်တင်ပြချက် | - ကုမ္ပဏီသည် ပြည်ပမှ အမေရိကန်ဒေါ်လာ ၂၄.၆၆၉ သန်းတန်ဖိုးရှိ စက်ပစ္စည်း၊ ဓာတ်ခွဲခန်းသုံးပစ္စည်း၊ ဆောက်လုပ်ရေးလုပ်ငန်းသုံးပစ္စည်း၊ မော်တော်ကားနှင့်ကုန်ကြမ်းများ တင်သွင်းမည် ဖြစ်ပါသည်။<br>- အဆိုပြုလုပ်ငန်းသည်ရင်းနှီးမြှုပ်နှံမှုဦးစားပေးမြင့်တင်မည့်ကဏ္ဍ တွင်ပါဝင်ပြီး ISIC 1040 တွင် အကျုံးဝင်ပါသည်။ |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊မရက-၂/ ခ-၀၂၃/၂၀၁၈(၃၄ ၁ )
ရက်စွဲ ၊ ၂၀၁၈ ခုနှစ် ဇူလိုင်လ ၂၄ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် ယုဇနကုမ္ပဏီလီမိတက် (Yuzana Company Limited) မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ စားအုန်းဆီနှင့် ဆက်စပ်ပစ္စည်း ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းကိစ္စ**

၁။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် ယုဇနကုမ္ပဏီလီမိတက်မှ မြေကွက်အမှတ် (၄၁၄)၊ မြေတိုင်း ရပ်ကွက်အမှတ်-၂၅၊ ဆိပ်ကမ်းသာလမ်း၊ လှိုင်သာယာမြို့နယ်၊ ရွှေလင်ပန်းစက်မှုဇုန်၊ ရန်ကုန်တိုင်းဒေသကြီး ရှိ မြေဧရိယာ (၄၂.၅၁၇) ဧကအနက်မှ (၁၃.၅၅) ဧက(၅၄၈၃၄.၉၅၃ စတုရန်းမီတာ) တွင် စားအုန်းဆီနှင့် ဆက်စပ်ပစ္စည်း ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက် တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေအထောက်အထားအဖြစ် ယုဇနကုမ္ပဏီလီမိတက်၏ ဒါရိုက်တာနှင့် ရှယ်ယာရှင်တစ်ဦးဖြစ်သည့် ဦးဌေးမြင့် အမည်ဖြင့် မြေဂရန် တင်ပြထားပါသည်။ ဦးဌေးမြင့် အနေဖြင့် ကုမ္ပဏီသို့ လုပ်ငန်းလုပ်ကိုင်ရန် ခွင့်ပြုထားကြောင်း ဒါရိုက်တာ အဖွဲ့အစည်းအဝေး မှတ်တမ်း ကို တင်ပြ ထားပါသည်။

၃။ အဆိုပြုလုပ်ငန်း၏ တည်ဆောက်ရေးကာလမှာ ၂ နှစ် ကြာမြင့်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၄။ လုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းပမာဏမှာ ကျပ် ၃၇,၈၀၀.၀၀ သန်း (အမေရိကန်ဒေါ်လာ ၂၅.၆၆၉ သန်း အပါအဝင်) ဖြစ်ပါသည်။ မတည်ငွေရင်း ထည့်ဝင်မှုများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | ကျပ်/သန်း |
|---|---|
| ငွေသား | ၂၁၇၈.၇၅ (အမေရိကန်ဒေါ်လာ ၁.၀၀၀သန်း အပါအဝင်) |
| စက်ပစ္စည်းစာရင်း(ပြည်ပ) | ၂၂,၃၀၀.၆၅ (အမေရိကန်ဒေါ်လာ ၁၆.၅၁၉ သန်းနှင့် ညီမျှသော) |
| ဓာတ်ခွဲခန်းသုံးပစ္စည်း(ပြည်ပ) | ၄၀၅.၀၀ (အမေရိကန်ဒေါ်လာ ၀.၃၀၀ သန်းနှင့် ညီမျှသော) |
| ပရိဘောဂနှင့်လုပ်ငန်းသုံး ပစ္စည်းများ | ၈၃.၁၀ |
| ဆောက်လုပ်ရေးလုပ်ငန်းသုံး ပစ္စည်း တန်ဖိုး(ပြည်ပ) | ၃၃၇၅.၀၀ (အမေရိကန်ဒေါ်လာ ၂.၅၀၀ သန်းနှင့် ညီမျှသော) |
| အဆောက်အဦဆောက်လုပ်မှု ကုန်ကျစရိတ် | ၄၇၅.၀၀ |

**ကျပ်/သန်း**

| | |
|---|---|
| မော်တော်ကား(ပြည်ပ) | ၇၄၂.၅၀ (အမေရိကန်ဒေါ်လာ ၀.၅၅၀ သန်းနှင့် ညီမျှသော) |
| ဆိပ်ခံတံတား | ၁၇၆၀.၀၀ |
| ကနဦးကုန်ကြမ်း(ပြည်ပ) | ၆၄၈၀.၀၀ (အမေရိကန်ဒေါ်လာ ၄.၈၀၀ သန်းနှင့် ညီမျှသော) |
| **စုစုပေါင်း** | **၃၇၈၀၀.၀၀** |

၅။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းဝန်ထမ်း ၆၃၀ ဦး ခန့်ထားမည်ဖြစ်ပြီး၊ ပြည်ပဝန်ထမ်း ၇ ဦးခန့်ထားမည်ဖြစ်သည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၅၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၁,၀၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ အမေရိကန် ဒေါ်လာ ၂,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၃,၀၀၀ ဖြစ်ပါသည်။

၆။ အဆိုပြုလုပ်ငန်းမှာ စားအုန်းဆီနှင့်ဆက်စပ်ပစ္စည်းများ ထုတ်လုပ်ပြီး ပြည်တွင်းတွင် ၁၀၀% ရောင်းချ မည်ဖြစ်ပါသည်။ ထုတ်လုပ်မှု အရေအတွက်နှင့် ရောင်းဈေးနှုန်းများအား နောက်ဆက်တွဲ (က) ဖြင့် တင်ပြထား ပါသည်။

၇။ အဆိုပြုလုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြား ထားပါသည်-

(က) **ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာနမှ** မှ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) ကို ဆောင်ရွက်ပြီး ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)ကို ရေးဆွဲတင်ပြရမည် ဖြစ်ကြောင်းသဘောထား ပြန်ကြားလာ ပါသည်။ **နောက်ဆက်တွဲ-ခ**

(ခ) **ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန** မှ အဆိုပြုလုပ်ငန်း နှင့်စပ်လျဉ်း၍ ယုဇန ကုမ္ပဏီလီမိတက်မှ လှိုင်မြစ်ကမ်းနဖူးတွင် ကွန်ကရစ်ဆိပ်ခံတံတား တည်ဆောက် မည့်နေရာသည် ဆိပ်ကမ်းနယ်နိမိတ်အတွင်း ကျရောက်လျက်ရှိပြီး ပို့ဆောင်ရေး နှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ စီမံခန့်ခွဲပိုင်ခွင့် ရှိသော ရေဒေသဧရိယာအတွင်း တည်ရှိနေသဖြင့် အသုံးပြုမည့် ၁.၂၅ဧက အတွက် မြေအသုံးချမှု ပရီမီယံကြေးအဖြစ် တစ်ဧကလျှင် ငွေကျပ် ၁၅၀ သိန်း နှုန်းဖြင့် ကျသင့်သည့် မြေအသုံးချမှု ပရီမီယံကြေး ငွေကျပ် ၁၈,၇၅၀,၀၀၀ (ကျပ် တစ်ဆယ့်ရှစ်သန်း ခုနစ်သိန်း ငါးသောင်းတိတိ)နှင့် မြေငှားရမ်းခအဖြစ် တစ်စတုရန်း မီတာလျှင် ငွေကျပ် ၅၀၀နှုန်းဖြင့် ကျသင့်သည့် လစဉ်ငှားရမ်း ခငွေကျပ် ၂,၅၃၀,၀၀၀ (ကျပ် နှစ်သန်း ငါးသိန်း သုံးသောင်းတိတိ) ကို ပေးဆောင်ပေးရမည်ဖြစ်ပြီး မြန်မာ့ဆိပ်ကမ်းအာဏာပိုင်နှင့် ယုဇနကုမ္ပဏီ လီမိတက်တို့အကြား ပဋိညာဉ်စာချုပ်နှင့် ရေဒေသငှားရမ်းစာချုပ်များ ချုပ်ဆိုရန်

လိုအပ်မည်ဖြစ်ကြောင်း သဘောထား ပြန်ကြားထားပါသည်။ (အဆိုပါ သဘောထား ပြန်ကြားချက်နှင့်အညီ ဆောင်ရွက်ရန် ကုမ္ပဏီသို့ အကြောင်းကြားပြီး ဖြစ်ပါသည်။)

**နောက်ဆက်တွဲ-ဂ**

၈။ ငွေရေးကြေးရေးအထောက်အထားအဖြစ် ဦးဌေးမြင့်အမည်ဖြင့် ကမ္ဘောဇဘဏ်တွင် ၁၅-၆-၂၀၁၈ ရက်စွဲဖြင့် ကျပ် ၁၅,၃၂၅,၅၇၂,၁၇၀.၁၁ ရှိကြောင်း တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၉။ အောက်ပါအတိုင်းစိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့် ညီညွတ်မှု ရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) စက်ရုံ၌ အလုပ်သမားများအတွက် လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေးစီမံချက်၊ မီးဘေးကြိုတင်ကာကွယ်ရေး စီမံချက်နှင့် Corporate Social Responsibility (CSR) အစီ အစဉ်များကိုလည်း တင်ပြထားပါသည်။

(ဂ) အဆိုပြုလုပ်ငန်းသည် ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း EIA ဆောင်ရွက်ရမည်ဖြစ်ပါသဖြင့်ကော်မရှင်သို့ အဆိုပြုချက် တင်ပြရခြင်း ဖြစ်ပါ သည်။

(ဃ) အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၈ ခုနှစ် ဇူလိုင်လ ၂ ရက်နေ့တွင် ကျင်းပ ပြုလုပ်သည့် ၁၇/၂၀၁၈ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

(င) အဆိုပြုတင်ပြလာသည့် လုပ်ငန်းအမျိုးအစားနှင့် အလားတူလုပ်ငန်း( ၈ ) ခုအား ကော်မရှင် မှခွင့်ပြုခဲ့ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၀။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် ယုဇနကုမ္ပဏီလီမိတက် (Yuzana Company Limited) မှ စားအုန်းဆီနှင့် ဆက်စပ်ပစ္စည်း ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်း ကိစ္စနှင့် စပ်လျဉ်း၍ ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)
8

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

နောက်ဆက်တွဲ (က)

## ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်း

| စဉ် | ပစ္စည်းအမျိုးအစား | အရေအတွက် (MT) | ရောင်းဈေးနှုန်း (ကျပ်/ MT) |
|---|---|---|---|
| ၁။ | **Cooking Oil** | | |
| | -In Drum 180 Kg | ၇၈,၀၀၀ | ၁,၀၅၀,၀၀၀ |
| | -Jerry Can 16 Kg | ၄၆,၈၀၀ | ၁,၂၅၀,၀၀၀ |
| | -Plastic Bottle 5 Kg | ၁၅,၆၀၀ | ၁,၃၅၀,၀၀၀ |
| | -Plastic Bottle 2 Kg | ၇,၈၀၀ | ၁,၄၀၀,၀၀၀ |
| | - Plastic Bottle 1 Kg | ၇,၈၀၀ | ၁,၄၅၀,၀၀၀ |
| ၂။ | **By Product** | | |
| | -PFAD (Palm Fatty Acid Distillate) | ၇,၂၀၀ | ၇၅၀,၀၀၀ |
| | -RBD Palm Stearin (Refined Bleached Deo -dorized Palm Stearin) | ၃၁,၂၀၀ | ၈၀၀,၀၀၀ |
| | -Shortening | ၄,၈၀၀ | ၁,၂၀၀,၀၀၀ |
| | -Margarine | ၂,၄၀၀ | ၁,၄၅၀,၀၀၀ |
| | -Ghee | ၂,၄၀၀ | ၁,၂၀၀,၀၀၀ |
| | -Butter Substitute | ၂,၄၀၀ | ၁,၄၅၀,၀၀၀ |
| | -Bakery Fat | ၂,၄၀၀ | ၁,၂၀၀,၀၀၀ |

**ယုဇနကုမ္ပဏီလီမိတက် (Yuzana Company Limited) ၏**
**ဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာစာရင်း**

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁။ | ယုဇနကုမ္ပဏီလီမိတက် (Yuzana Company Limited) | (၁) ဦးဌေးမြင့် ဥက္ကဋ္ဌ ၁၂/ လမတ (နိုင်)- ၀၀၉၉၆၀ | အမှတ် (၁၃၀)၊ ရွှေဂုံတိုင်လမ်း၊ ရေတာရှည်ရပ်ကွက်၊ ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့။ |
| | | (၂) ဒေါက်တာမြတ်လှိုင် ဒါရိုက်တာ ၁၂/ လမတ (နိုင်)- ၀၀၄၇၃၁ | အမှတ် (၁၅)၊ သံတမန်လမ်း၊ ဒဂုံမြို့နယ်၊ ရန်ကုန်မြို့ |
| | | (၃) ဦးဝင်းမြင့် ဒါ ရိုက်တာ ၁၂/ လမတ (နိုင်)- ၀၁၃၈၁၉ | အမှတ် (၄၀)၊ ဝါးတန်းလမ်း၊ (၂)ရပ်ကွက်၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်မြို့။ |
| | | (၄) ဦးကျင်တိုး ဒါရိုက်တာ ၆/ မအရ (နိုင်)-၀၂၅၁၄၁ | အမှတ်-ကေ/၈၊ စံပယ်လမ်း၊ ဘိုးလိန်းအောင်၊ မင်္ဂလာရပ်ကွက်၊ တာမွေမြို့နယ်၊ ရန်ကုန်မြို့ |
| | | (၅) ဒေါ်မြတ်မြတ်မွန် ဒါရိုက်တာ ၆/ မအရ (နိုင်)-၀၃၂၂၅၄ | အမှတ်(၃)၊ စံပယ်လမ်းသွယ် (၃)၊ ဘိုးလိန်းအောင် မင်္ဂလာရပ်ကွက်၊ တာမွေမြို့နယ်၊ ရန်ကုန်မြို့ |
| | | (၆) ဒေါ်ခင်ဌေးလင်း ဒါရိုက်တာ ၁၂/ ဗဟန(နိုင်)-၀၀၆၇၀၂ | အမှတ်(၆၁၅-အာရ်)၊ ပြည်လမ်း၊ မာလာလမ်းသွယ်၊ (၂)ရပ်ကွက်၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့ |

| | | | |
|---|---|---|---|
| ၁။ | ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် | - | ၀၉-၅၀၀၉၂၁၂ |
| ၂။ | ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ | - | အမှတ် ၆၁၅ (အာရ်) ပြည်လမ်း၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့။ |
| ၃။ | ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး | - | ဒေါ်ခင်ဋ္ဌေးလင်း |
| ၄။ | ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ | - | စားအုန်းဆီနှင့်ဆက်စပ်ပစ္စည်း ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း |
| ၅။ | ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ | - | ၈၈/၁၉၉၃-၁၉၉၄ |
| ၆။ | ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ | - | ၃၀-၆-၂၀၁၉ |
| ၇။ | ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် | - | ကမ္ဘောဇဘဏ် (၀၂၁၆၀၂၀၀၇၀၀၁၅၅၆၀၂) |

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/ MIC (OSS)/ ၀၁(၃၈/၁၈)
ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ ဇူလိုင်လ ၃ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **ယုဇနကုမ္ပဏီလီမိတက်မှ စားအုန်းဆီနှင့်ဆက်စပ်ပစ္စည်းများ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၁-၆-၂၀၁၈ ရက်စွဲပါစာအမှတ်၊ မရက- ၂/ ခ-၀၂၃/ ၂၀၁၈(၂၇၇)

၁။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် ယုဇနကုမ္ပဏီလီမိတက် တည်ထောင်ပြီး ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ဆိပ်ကမ်းသာလမ်း၊ ရွှေလင်ဗန်းစက်မှုဇုန်၊ အမှတ်- ၄၁၄ အတွင်းရှိ စုစုပေါင်းမြေဧရိယာ ၁၃.၅၅ဧက(၅၄,၈၃၄.၉ စတုန်းမီတာ) ကိုငှားရမ်း၍ စားအုန်းဆီနှင့်ဆက်စပ်ပစ္စည်းများ ထုတ်လုပ်ခြင်းနှင့်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန်တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာအဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များကို လေ့လာတွေ့ရှိရပါသည် -

(က) ပေးပို့လာသော အဆိုပြုလွှာတွင် ကနဦးရင်းနှီးမြှုပ်နှံမှုကာလမှာ (၅၀) နှစ်ဖြစ်ပြီး၊ တည်ဆောက်ရေးကာလမှာ (၂) နှစ် ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းအားလှိုင်သာယာမြို့နယ်၊ ဆိပ်ကမ်းသာလမ်း၊ ရွှေလင်ဗန်းစက်မှုဇုန်၊ အမှတ်- ၄၁၄ အတွင်းရှိမြေ (၅၄,၈၃၄.၉ စတုန်းမီတာ) ပေါ်တွင် (၄၀၈) ပေအရှည်ရှိ ဆိပ်ခံတံတား၊ လိုအပ်သော အဆောက်အဦ (၇) လုံးနှင့် ဆီသိုလှောင်ကန်များ တည်ဆောက်ကာစားအုန်းဆီနှင့် ထုပ်ပိုးရာတွင်အသုံးပြုသည့် ပလတ်စတစ်အိတ်၊ ပုံးများနှင့် ဆက်စပ်ပစ္စည်းများ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဂ) အဆိုပြုလုပ်ငန်းအတွက် လိုအပ်သောကုန်ကြမ်းကို ပြည်ပနှင့် တနင်္သာရီတိုင်း၊ ကော့သောင်းမြို့နယ်တွင်ရှိသော ဆီအုန်းစိုက်ပျိုးရေးစီမံကိန်းမှ ကုမ္ပဏီပိုင် ဆီသဘောင်္ဖြင့်သယ်ယူကာ ဆိပ်ခံတံတားမှတစ်ဆင့် စက်ရုံဝင်းအတွင်းရှိ ဆီကြမ်းသိုလှောင်ကန်များသို့ ပိုက်လိုင်းဖြင့် သယ်ယူသွားမည် ဖြစ်ကြောင်း၊

(ဃ) အဆိုပြုလုပ်ငန်းမှ ထုတ်လုပ်မှုအနေဖြင့် စားအုန်းဆီနှင့် ဆက်စပ်ပစ္စည်းများကို နှစ်စဉ်မက်ထရစ်တန်ချိန် (၂) သိန်းကျော် ထုတ်လုပ်ရောင်းချသွားမည် ဖြစ်ကြောင်း၊

(င) ဝန်ထမ်းများ သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေး ကြိုတင်ကာကွယ်ရေး အစီအမံများကိုလည်းထားရှိ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(စ) လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏ (၂%) ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(ဆ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှထုတ်ပြန်ထားသော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး/လုပ်နည်း၊ အမိန့်နှင့်ညွှန်ကြားချက်များကို လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကာ လိုအပ်သော စွန့်ပစ်ရေသန့်စင်သောစနစ်ကိုလည်း တပ်ဆင်ဆောင်ရွက်မည် ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ လုပ်ငန်းလည်ပတ်ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုများဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည်-

(က) ယုဇနကုမ္ပဏီလီမိတက်မှ စားအုန်းဆီနှင့်ဆက်စပ်ပစ္စည်းများ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ရာတွင် အဆောက်အဦများနှင့် ဆိပ်ကမ်းဆောက်လုပ်ရန်အတွက် မြေတူးခြင်း၊ မြေသားပြုပြင်ဖော်ထုတ်ခြင်းလုပ်ငန်းများမှ ထွက်ရှိလာမည့် မြေသားအမှုန်အမွှားများနှင့် ဖုန်မှုန့်များကြောင့် လေထုညစ်ညမ်းခြင်း၊

(ခ) တည်ဆောက်လုပ်ငန်းသုံး ယာဉ်ယန္တယားများနှင့်စက်ပစ္စည်းများမှ ထွက်ရှိလာမည့်စက်ဆီ၊ ချောဆီနှင့် စွန့်ပစ်ပစ္စည်းများကြောင့် ပတ်ဝန်းကျင်ရှိ မြေထု၊ ရေထုနှင့် လေထုညစ်ညမ်းခြင်း၊

(ဂ) အလုပ်သမားများ၏ စွန့်ပစ်ပစ္စည်းများနှင့် မိလ္လာအညစ်အကြေးများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းခြင်း၊

(ဃ) လုပ်ငန်းများဆောင်ရွက်ချိန်တွင်ထွက်ရှိလာမည့် ထုတ်လွှတ်အခိုးအငွေ့များကြောင့် လေထုညစ်ညမ်းခြင်းနှင့် စက်ရုံတွင်းဝန်ထမ်းများ၏ အဆုတ်နှင့်အသက်ရှူလမ်းကြောင်းဆိုင်ရာရောဂါများဖြစ်ပွားစေနိုင်ခြင်း၊ စက်ရုံမှထွက်ရှိလာသော စွန့်ပစ်အစိုင်အခဲနှင့် စွန့်ပစ်အရည်များကို သန့်စင်မှုမပြုလုပ်ဘဲ မြစ်၊ ချောင်း၊ အင်းအိုင်များအတွင်းသို့တိုက်ရိုက်စွန့်ပစ်ခြင်းကြောင့် ရေထုညစ်ညမ်းမှုစသည့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုပြဿနာများ ဖြစ်စေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ ယုဇနကုမ္ပဏီလီမိတက်မှ စားအုန်းဆီနှင့်ဆက်စပ်ပစ္စည်းများ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့်လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေးထိခိုက်ပျက် စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များ

ကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအားအသုံးပြုရန်နှင့် အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက်အသားတင်အမြတ်ငွေ၏ ၂% ကိုအသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျ လိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၄၉)၊ (၆၃) နှင့်အညီ ပြုစုဆောင်ရွက်ရန်၊

(ဂ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၅၊ ၄၆ တို့အရစီမံကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းလုပ်ငန်း **(Environmental Impact Assessment-EIA)** မစတင်မီ အဆိုပါလုပ်ငန်းကို ဆောင်ရွက်မည့် တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့် စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ဆုံးဖြတ်ချက်ရယူရန်၊

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၇ မှ အပိုဒ် ၅၄ထိ ဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်းအစီရင်ခံစာနှင့်ဆောင်ရွက်မည့်လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ ဆောင်ရွက်သွားမည့် လုပ်ငန်းတစ်ခုချင်းအလိုက် လေ့လာဆန်းစစ်ပြုစု၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်း သိမ်းရေးဝန်ကြီးဌာနသို့တင်ပြ အတည်ပြုချက်ရယူရန်၊

(င) အတည်ပြုပြီးသော နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်း အစီရင်ခံစာပါအချက်များအပေါ်အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် (၆၃) ပါအချက်များနှင့်အညီ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းအစီရင်ခံစာ (EIA)** ကိုဆောင်ရွက်ပြီးသယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ ရေးဆွဲတင်ပြရန်၊

(စ) အထက်ပါလေ့လာဆန်းစစ်မှု ရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဆ) ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သောပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင်ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်နှင့် တင်ပြရမည့်အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများဖြည့်စွက်၍တစ်ပါတည်း တင်ပြရန်၊

(ဇ) သက်ဆိုင်ရာတိုင်းဒေသကြီး အစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ဆန္ဒနှင့် သဘောထားများကိုလည်းရယူဆောင်ရွက်ရန်၊

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်(ပတ်ဝန်းကျင်)
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို
ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ

နောက်ဆက်တွဲ-ဂ




# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
# ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန
# ဝန်ကြီးရုံး

စာအမှတ်၊ ပဆ-(၃)/(တံတား-MPA)/၂၀၁၈(၁၂၆)

ရက်စွဲ ၊ ၂၀၁၈ ခုနှစ်၊ ဇူလိုင်လ ၁၇ ရက်

သို့

C 223/1717 ✓ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက် ပြန်ကြားခြင်း

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၄.၇.၂၀၁၈ ရက်နေ့စွဲပါ စာအမှတ်၊ မရက -၂/ခ-ဝ၁၃/၂၀၁၈ (၃၀၄)

၁။ ယုဇနကုမ္ပဏီလီမိတက်က ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ဆိပ်ကမ်းသာလမ်း၊ ရွှေလင်ဗန်းစက်မှုဇုန်၊ အမှတ်(၄၁၄)အတွင်းရှိ စုစုပေါင်း မြေဧရိယာ (၁၃.၅၅) ဧကကို ငှားရမ်း၍ စားအုန်းဆီနှင့် ဆက်စပ်ပစ္စည်းများ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ အဆိုပြုလွှာပါ လှိုင်မြစ်ကမ်းဘေး၌ ၆၈၆ ပေ၊ ၉ လက်မ ရှည်သော ဆိပ်ခံတံတားအား ကျပ် ၁၇၆၀.၀၀ သန်း ရင်းနှီးမြှုပ်နှံ၍ တည်ဆောက်မည် ဖြစ်ပါကြောင်း အဆိုပြု တင်ပြလာခြင်းအပေါ် သဘောထား မှတ်ချက် ပြန်ကြားပေးနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်က ရည်ညွှန်းပါစာဖြင့် ညှိနှိုင်း လာသည့် ကိစ္စဖြစ်ပါသည်။

၂။ ယုဇနကုမ္ပဏီလီမိတက်အနေဖြင့် လှိုင်သာယာမြို့နယ်၊ ရွှေလင်ဗန်းစက်မှုဇုန်၊ ဆိပ်ကမ်းသာလမ်း၊ အမှတ်(၄၁၄) မြေနေရာတွင် စက်မှုလက်မှုလုပ်ငန်းများ ဆောင်ရွက်ရန်အတွက် မြို့ရွာနှင့်အိုးအိမ် ဦးစီးဌာနမှ နှစ်(၆၀) မြေငှားစာချုပ်ဖြင့် ယုဇနကုမ္ပဏီလီမိတက်၏ ဥက္ကဋ္ဌ ဦးဌေးမြင့် အမည်ပေါက် ချထားသော မြေနေရာကို ကျောထောက်နောက်ခံပြု၍ လှိုင်မြစ်ကမ်းနဖူးတွင် ကွန်ကရစ် ဆိပ်ခံ တံတား တည်ဆောက်မည့်နေရာသည် ဆိပ်ကမ်းနယ်နိမိတ်အတွင်း ကျရောက်လျက်ရှိပြီး ပို့ဆောင်ရေး နှင့်ဆက်သွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်က စီမံခန့်ခွဲပိုင်ခွင့်ရှိသော ရေဒေသ ဧရိယာ အတွင်း တည်ရှိနေကြောင်း တွေ့ရှိရပါသည်။

၃။ ယုဇနကုမ္ပဏီလီမိတက်သည် လှိုင်မြစ်ကမ်းနဖူးတွင် အလျား ၄၀၈ ပေ၊ အကျယ် ၄၉ ပေ ၆ လက်မ အရွယ်ရှိ ဆိပ်ခံတံတားနှင့် အလျား ၈၄ ပေ၊ အကျယ် ၂၄ ပေ အရွယ် ချဉ်းကပ်တံတား (၂)စင်း ပါဝင်သော ကွန်ကရစ်ဆိပ်ခံတံတားကို တည်ဆောက်မည်ဖြစ်သဖြင့် မြန်မာ့ဆိပ်ကမ်း

အာဏာပိုင်၏ စီမံခန့်ခွဲပိုင်ခွင့်ရှိသော ရေဒေသဧရိယာ ၅၄၄၆၈ စတုရန်းပေ (၅၀၆၀ စတုရန်းမီတာ = ၁.၂၅ ဧက) ကို အသုံးပြုသွားရန်ရှိကြောင်း စိစစ်တွေ့ရှိရပါသည်။

၄။ ထို့ကြောင့် လှိုင်မြစ်ကမ်းနဖူးရှိ ဆိပ်ကမ်းနယ်နိမိတ်အတွင်းကျရောက်လျက်ရှိသော မြန်မာ့ဆိပ်ကမ်းအာဏာပိုင်က စီမံခန့်ခွဲပိုင်ခွင့်ရှိသည့် ရေဒေသဧရိယာ ၁.၂၅ ဧကအတွက် မြေအသုံးချမှု ပရီမီယံကြေးအဖြစ် တစ်ဧကလျှင် ငွေကျပ် ၁၅၀ သိန်းနှုန်းဖြင့် ကျသင့်သည့် မြေအသုံးချမှု ပရီမီယံကြေး ငွေကျပ် ၁၈,၇၅၀,၀၀၀/- (ကျပ် တစ်ဆယ့်ရှစ်သန်း ခုနစ်သိန်း ငါးသောင်း တိတိ) နှင့် မြေငှားရမ်းခ အဖြစ် တစ်စတုရန်းမီတာလျှင် ငွေကျပ် ၅၀၀ နှုန်း ဖြင့် ကျသင့်သည့် လစဉ်ငှားရမ်းခငွေကျပ် ၂,၅၃၀,၀၀၀/- (ကျပ် နှစ်သန်း ငါးသိန်း သုံးသောင်း တိတိ) ကို ပေးဆောင်စေသင့်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၅။ ယုဇနကုမ္ပဏီလီမိတက်သည် တနင်္သာရီတိုင်းဒေသကြီးတွင် ၎င်းတို့စိုက်ပျိုးထားသော ဆီအုန်းပင်များမှ ထွက်ရှိသည့် စားအုန်းဆီကုန်ကြမ်းများကို ရေလမ်းကြောင်းမှ ရန်ကုန်မြို့သို့ သယ်ဆောင်၍ အဆိုပြုထားသည့်မြေနေရာတွင် စားအုန်းဆီနှင့်ဆက်စပ်ပစ္စည်းများ ထုတ်လုပ်မည့် စက်ရုံတည်ဆောက်ပြီး ရောင်းချခြင်းနှင့် ဖြန့်ဖြူးခြင်းလုပ်ငန်းများကို ဆောင်ရွက်မည်ဖြစ်သဖြင့် လှိုင်သာယာမြို့နယ်အတွင်းရှိ ပြည်သူများအတွက် အလုပ်အကိုင်အခွင့်အလမ်းများ ပိုမိုဖန်တီးပေးနိုင်ခြင်း၊ ရေကြောင်းဖြင့် ကုန်စည်ပို့ဆောင်ခြင်းကဏ္ဍ ဖွံ့ဖြိုးတိုးတက်နိုင်ခြင်းတို့အပြင် နိုင်ငံတော်၏ စက်မှုလက်မှုလုပ်ငန်းများဖွံ့ဖြိုးရေးကိုလည်း အထောက်အပံ့ ဖြစ်စေနိုင်မည်ဖြစ်ကြောင်း သုံးသပ်တွေ့ရှိရပါသည်။

၆။ ယုဇနကုမ္ပဏီလီမိတက်က ပိုင်ဆိုင်သော ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ဆိပ်ကမ်းသာလမ်း၊ ရွှေလင်ဗန်းစက်မှုဇုန်၊ အမှတ်(၄၁၄)အတွင်းရှိ စုစုပေါင်း မြေဧရိယာ (၁၃.၅၅)ဧကကို ကျောထောက်နောက်ခံပြု၍ ဆိပ်ကမ်းနယ်နိမိတ်အတွင်း ကျရောက်လျက်ရှိသော လှိုင်မြစ်ကမ်းနဖူးရှိ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်က စီမံခန့်ခွဲပိုင်ခွင့်ရှိသည့် ရေဒေသတွင် ကမ်းရိုးတန်းနှင့် ပြည်တွင်းသွားရေယာဉ်များ ဆိုက်ကပ်နိုင်မည့် ကွန်ကရစ်ဆိပ်ခံတံတား တည်ဆောက်ပြီး စားအုန်းဆီနှင့် ဆက်စပ်ပစ္စည်းများ ထုတ်လုပ်ခြင်းနှင့်ရောင်းချခြင်း လုပ်ငန်းများအား ဆောင်ရွက်ခွင့် ပြုခြင်းအတွက် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်သို့ မြေအသုံးချမှုပရီမီယံကြေး ငွေကျပ် ၁၈,၇၅၀,၀၀၀/- (ကျပ် တစ်ဆယ့်ရှစ်သန်း ခုနစ်သိန်း ငါးသောင်း တိတိ)ကိုလည်းကောင်း၊ လစဉ် မြေငှားရမ်းခ ငွေကျပ်၂,၅၃၀,၀၀၀/- (ကျပ် နှစ်သန်း ငါးသိန်း သုံးသောင်း တိတိ) ကိုလည်းကောင်း ပေးဆောင်စေရမည်ဖြစ်ပြီး မြန်မာ့ဆိပ်ကမ်းအာဏာပိုင်နှင့် ယုဇနကုမ္ပဏီလီမိတက်တို့အကြား ပဋိညာဉ်စာချုပ်နှင့် ရေဒေသငှားရမ်းစာချုပ်များ ချုပ်ဆိုရန် လိုအပ်မည်ဖြစ်ပါကြောင်း စိစစ်တွေ့ရှိရပါသည်။

.။ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်နှင့် ယုဇနကုမ္ပဏီလီမိတက်တို့အကြား ရေဒေသငှားရမ်းခြင်းအတွက် ပဋိညာဉ်စာချုပ်နှင့် မြေငှားစာချုပ်တို့ ချုပ်ဆိုရမည်ဖြစ်ရာ အဆိုပါ သဘောတူစာချုပ်များသည် စီးပွားရေးစာချုပ်စာတမ်းများတွင် ပါဝင်ကြောင်း စိစစ်တွေ့ရှိရပါသဖြင့် နိုင်ငံတော်သမ္မတရုံး၏ ၁-၇-၂၀၁၈ ရက်စွဲပါ အမိန့်ကြော်ငြာစာအမှတ် (၄၁/၂၀၁၈) နှင့်အညီ ပဋိညာဉ်စာချုပ်(မူကြမ်း)နှင့် ရေဒေသမြေငှားစာချုပ်(မူကြမ်း)တို့အပေါ် စာချုပ် မချုပ်ဆိုမီ စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန၊ စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီးဌာန၊ ပြည်ထောင်စုရှေ့နေချုပ်ရုံးနှင့် ပြည်ထောင်စုစာရင်းစစ်ချုပ်ရုံးတို့၏ အကြံပြုချက်များ၊ သဘောထားမှတ်ချက်များ ရယူပြီးမှ သဘောတူစာချုပ်များ ချုပ်ဆိုရန်လိုအပ်မည် ဖြစ်ပါကြောင်း တွေ့ရှိရပါသည်။

၈။ သို့ဖြစ်ပါ၍ ယုဇနကုမ္ပဏီလီမိတက်က ပိုင်ဆိုင်သော ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ဆိပ်ကမ်းသာလမ်း၊ ရွှေလင်ဗန်းစက်မှုဇုန်၊ အမှတ်(၄၁၄) အတွင်းရှိ စုစုပေါင်း မြေဧရိယာ (၁၃.၅၅)ဧကကို ကျောထောက်နောက်ခံပြု၍ ဆိပ်ကမ်းနယ်နိမိတ်အတွင်း ကျရောက်လျက်ရှိသော လှိုင်မြစ်ကမ်းနဖူးရှိ ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်က စီမံခန့်ခွဲပိုင်ခွင့်ရှိသည့် ရေဒေသမြေတွင် ကမ်းရိုးတန်းနှင့် ပြည်တွင်းသွားရေယာဉ်များ ဆိုက်ကပ်နိုင်မည့် ကွန်ကရစ်ဆိပ်ခံတံတား တည်ဆောက်ခွင့် ပြုခြင်းအတွက် အထက်စာပိုဒ် (၆)နှင့် (၇)ပါ အချက်များနှင့်အညီ ဆောင်ရွက်ရန်လိုအပ်မည် ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
ဝင်းခန့် - အမြဲတမ်းအတွင်းဝန်

မိတ္တူကို-
- မြန်မာ့ဆိပ်ကမ်းအာဏာပိုင်
- ရုံးလက်ခံ
- မျှောစာတွဲ